ပုံစံ (၅-က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အတည်ပြုမိန့်**

အတည်ပြုမိန့်အမှတ် ၁၁၁ /၂၀၁၇ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ-၂၅၊ ပုဒ်မခွဲ(ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဒေါ်နှောင်းနှောင်းဝင်း

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် ၃၅၊ မြေညီထပ်၊ ရေတာရှည်လမ်းဟောင်း၊ မြို့မရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံ တန်ဖိုးမြှင့် ထုတ်ကုန် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** နေပြည်တော်၊ ဒက္ခိဏသီရိမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၀/ဒက္ခိဏသီရိအနောက်ရပ်၊ မြေကွက်အမှတ် ဒ-၂၈၊ ဒ-၂၉

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၃၅၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၉၇၂ သန်း အပါအဝင် စုစုပေါင်းကျပ် သုံးထောင့် ငါးရာ သန်း တိတိ)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၁ နှစ်

(၁၂) **အတည်ပြုမိန့် သက်တမ်း** ၃၀ နှစ်

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** Myanmar Golden Produce Company Limited ( မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက် )

24-7-17

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**


အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇

🖷 ၀၁-၆၅၈၁၃၆


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် စာအမှတ် ၃၅၉-၁ ရက်စွဲ ၂၄-၇-၂၀၁၇

စာအမှတ်၊ မရက-၂/အ-၀၀၆/၂၀၁၇(၃၅၉-၁ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၂၄ ရက်

အကြောင်းအရာ။ **Myanmar Golden Produce Company Limited (မြန်မာရွှေ သစ်သီးဝလံ ကုမ္ပဏီလီမိတက်) ၏ ဟင်းသီးဟင်းရွက် သစ်သီးဝလံ တန်ဖိုးမြှင့် ထုတ်ကုန်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Myanmar Golden Produce Company Limited (မြန်မာရွှေ သစ်သီးဝလံ ကုမ္ပဏီလီမိတက်) ၏ (၆-၆-၂၀၁၇) ရက်စွဲပါစာ

၁။ Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) မှ နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်- ၁၀/ဒက္ခိဏသီရိအနောက်ရပ်၊ မြေကွက်အမှတ် -ဒ-၂၈၊ ဒ-၂၉ ရှိ စုစုပေါင်းမြေ ၅.၄၀၇ ဧက (၂၁,၈၈၁.၃၇ စတုရန်းမီတာ) တွင် ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံတန်ဖိုးမြှင့်ထုတ်ကုန်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြခြင်းအား ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) အား ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံ တန်ဖိုးမြှင့်ထုတ်ကုန် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၀၁၁/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အတည်ပြုမိန့်ရရှိသည့် နေ့မှစ၍ ၃၀(သုံးဆယ်) နှစ် ခွင့်ပြုသည်။

(ခ) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဟင်းသီးဟင်းရွက်၊ သစ်သီးဝလံ တန်ဖိုးမြှင့် ထုတ်ကုန်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၂) အရ မြေအသုံးပြုခွင့်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ဂ) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီ လီမိတက်) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ**အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဃ) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန် ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(စ) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီ လီမိတက်)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်း တို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ

အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဇ) Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar Golden Produce Company Limited (မြန်မာရွှေသစ်သီးဝလံ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

24.7.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

**Myanmar Golden Produce Company Limited (မြန်မာရွှေ သစ်သီးဝလံ ကုမ္ပဏီလီမိတက်)**

**ဖြန့်ဝေခြင်း**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

နေပြည်တော်ကောင်စီ

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန